အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် GPS Joint Venture Co., Ltd. မှ အမှတ်(၁) သတ္တုတွင်းလုပ်ငန်းနှင့်ပူးပေါင်း၍ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသောစနစ်ဖြင့် ခဲသတ္တုသန့်စင်အကြီးစား ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - GPS Joint Venture Co., Ltd.<br>- Mr. Luo Rong |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Sichuan Henglu Industrial Co., Ltd. (China) ၉၈ %<br>- ကောင်းသောအင်အားကြယ် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Myanmar) ၂ % |
| | လုပ်ငန်းအမျိုးအစား | - ခဲသတ္တုသန့်စင်အကြီးစား ထုတ်လုပ်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဘော်ဆိုင်းကျေးရွာအုပ်စု |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၂.၀၀၃ စတုရန်းကီလိုမီတာ (၄၉၅ ဧက) |
| | မြေပိုင်ရှင် | - နိုင်ငံတော်အစိုးရမြေ |
| ၃။ | လုပ်ငန်းသက်တမ်း | - ကနဦး (၁၅) နှစ် သက်တမ်းတိုး(၅) နှစ် |
| | တည်ဆောက်ရေးကာလ | - (၂၄) လ |
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၂၈.၆၉ သန်း<br>- Sichuan Henglu Industrial Co., Ltd. မှ US$ ၂၈.၁၂ သန်း<br>- ကောင်းသောအင်အားကြယ် သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်မှ ကျပ်ငွေ ၅၄၁.၅၀ သန်း (အမေရိကန်ဒေါ်လာ ၀.၅၇ သန်း) |
| | ထည့်ဝင်သည့် အမျိုးအစား | - |

| | နိုင်ငံခြား (US$/သန်း) | မြန်မာ (US$/သန်း) (ညီမျှသော မြန်မာကျပ်ငွေ) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၂.၇၄ | ၀.၅၇ | ၃.၃၁ |
| စက်ပစ္စည်းကိရိယာ | ၁၄.၉၈ | | ၁၄.၉၈ |
| အခြား | ၁၀.၄၀ | | ၁၀.၄၀ |
| **စုစုပေါင်း** | **၂၈.၁၂** | **၀.၅၇** | **၂၈.၆၉** |

| | | |
|---|---|---|
| ၅။ | ဝန်ထမ်းအင်အား | - **၆၄၀ ဦး** |
| | ပြည်တွင်း | - ၆၂၈ ဦး (အနိမ့်ဆုံးလစာမှာ ကျပ် ၉၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပါသည်) |
| | ပြည်ပ | - ၁၂ ဦး (အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၈၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာအမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်) |

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်စနစ် | - ၁၀၀ % နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်း |
| ၇။ | ကုမ္ပဏီ၏ ဝင်ငွေ(ဆဋ္ဌမနှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၁၈.၀၀ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - အမေရိကန်ဒေါ်လာ ၁၃.၆၃ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - အမေရိကန်ဒေါ်လာ ၄.၃၇ သန်း |
| ၈။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်မြောက်) | **(US$/သန်း)** |
| | ဝင်ငွေခွန် | ၁.၄၅၆ |
| | ပုံသေမြေငှားရမ်းခ | ၀.၀၀၆ |
| | ဓာတ်သတ္တုခွန် (၄ %) | ၀.၇၂၀ |
| ၉။ | အရင်းကြေကာလ | - ၄ နှစ် ၉ လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း | - ၁၇.၁၉ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၀,၀၀၀,၀၀၀ ယူနစ် |
| ၁၂။ | အခြားတင်ပြချက် | - အဆိုပြုချက်၏ Schedule-3 တွင် တစ်စီးလျှင် အမေရိကန်ဒေါ်လာ ၆၃,၅၀၀ တန်ဖိုးရှိသော Truck (20 Tons) (2011/2012 Model) (၁၀) စီး၊ စုစုပေါင်းတန်ဖိုး အမေရိကန်ဒေါ်လာ ၀.၆၃၅ သန်း တန်ဖိုးရှိ Truck များတင်သွင်းခွင့်ပြုပါရန် တင်ပြထားပါသည်။ |

ကန့်သတ်

စားပွဲတင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/န-၇၂၆/၂၀၁၄( ၁၅၅ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၆ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် GPS Joint Venture Co., Ltd. မှ အမှတ်(၁) သတ္တုတွင်းလုပ်ငန်းနှင့်ပူးပေါင်း၍ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသောစနစ်ဖြင့် ခဲသတ္တုသန့်စင်အကြီးစား ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Sichuan Henglu Industrial Co., Ltd. မှ ၉၈ % နှင့် မြန်မာနိုင်ငံ Good Plus Star Mining Co.,Ltd. မှ ၂ % အစု ရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် GPS Joint Venture Co., Ltd. တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဘော်ဆိုင်းကျေးရွာအုပ်စုရှိ မြေဧရိယာ (၄၉၅) ဧကတွင် အမှတ်(၁)သတ္တုတွင်းလုပ်ငန်းနှင့် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသောစနစ်ဖြင့် ခဲသတ္တုသန့်စင်အကြီးစားထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် သတ္တုတွင်းဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Sichuan Henglu Industrial Co., Ltd. နှင့် Good Plus Star Mining Co.,Ltd. တို့ ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) ၊ GPS Joint Venture Co., Ltd. (ဖက်စပ်ကုမ္ပဏီ) နှင့် Sichuan Henglu Industrial Co., Ltd. တို့ ချုပ်ဆိုထားသည့် အရောင်းအဝယ်သဘောတူစာချုပ် (Purchase and Sale Contract) တင်ပြထားပါသည်။ ထို့အပြင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ ဘဏ္ဍာရေးဝန်ကြီးဌာန၊ အမျိုးသားစီမံကိန်း နှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များနှင့် အညီ ပြင်ဆင်ဖြည့်စွက်ထားသည့် အမှတ် (၁) သတ္တုတွင်းလုပ်ငန်းနှင့် GPS Joint Venture Co., Ltd. တို့၏ ခဲသတ္တုသန့်စင် အကြီးစားထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသော လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း) နှင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁၁-၁၂-၂၀၁၃) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၏ (၃၃/၂၀၁၃) ကြိမ်မြောက် အစည်းအဝေးမှ သဘောတူခွင့်ပြုကြောင်း အထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ တစ်ကွက်လျှင် (၄၉.၅၀) ဧကရှိသော လုပ်ကွက် (၁၀)ကွက်ဖြစ်ပြီး စုစုပေါင်းမြေဧရိယာမှာ (၄၉၅) ဧက (၂.၀၀၃ စတုရန်းကီလိုမီတာ) ဖြစ်ပါသည်။

GPS Joint Venture Co., Ltd. မှ သတ္တုတွင်းဦးစီးဌာနသို့ ပေးသွင်းရမည့် ပုံသေမြေငှားရမ်းခ (Dead Rent) နှုန်းထားများအား အောက်ပါအတိုင်း တင်ပြထားပါသည်-

| | **တစ်နှစ်လျှင် တစ်စတုရန်းကီလိုမီတာ ပုံသေမြေငှားရမ်းခနှုန်းထား** (ညီမျှသော အမေရိကန်ဒေါ်လာ သို့မဟုတ် ယူရိုငွေ) | **တစ်နှစ်လျှင် စုစုပေါင်းပုံသေ မြေငှားရမ်းခ** (ညီမျှသော အမေရိကန်ဒေါ်လာ သို့မဟုတ် ယူရိုငွေ) |
|---|---|---|
| **ထူထောင်မှုကာလ** | | |
| - ပထမနှစ် | ကျပ်ငွေ ၂.၁ သန်း | ကျပ်ငွေ ၄.၂၀၆၃ သန်း |
| - ဒုတိယနှစ် | ကျပ်ငွေ ၂.၄ သန်း | ကျပ်ငွေ ၄.၈၀၇၂ သန်း |
| **ထုတ်လုပ်မှုကာလ** | ကျပ်ငွေ ၃.၀ သန်း | ကျပ်ငွေ ၆.၀၀၉၀ သန်း |

၄။ လုပ်ငန်းစီမံကိန်း၏ သက်တမ်းကာလမှာ ကနဦး (၁၅) နှစ်ဖြစ်ပြီး ထပ်မံ(၅)နှစ် သက်တမ်းတိုးခွင့်ပြုရန် တင်ပြထားပါသည်။ တည်ဆောက်ရေးကာလမှာ (၂၄)လ ကြာမြင့်မည် ဖြစ်ပြီး ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး (၃) လ အတွင်း စတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ GPS Joint Venture Co., Ltd. မှ ခဲသတ္တုများ ထုတ်လုပ်ရောင်းချခြင်းအပေါ်တွင် ဓာတ်သတ္တုခွန် ၄ % ပေးဆောင်ရမည်ဖြစ်ပြီး ဘဏ်အာမခံငွေ (Performance Bank Guarantee) အဖြစ် အမေရိကန်ဒေါ်လာ ၀.၂ သန်း သို့မဟုတ် ၎င်းငွေပမာဏနှင့်ညီမျှသော ယူရိုငွေအား စာချုပ်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း (၃၀) အတွင်း ပေးသွင်းရမည် ဖြစ်ပါသည်။ ထို့အပြင် အမှတ်(၁) သတ္တုတွင်းလုပ်ငန်းနှင့် GPS Joint Venture Co., Ltd. တို့၏ အကျိုးအမြတ်ခွဲဝေမှုအချိုးအား အောက်ပါအတိုင်း တင်ပြထားပါသည်-

(က) LME ခဲစင်ဈေး တစ်တန်လျှင် အမေရိကန်ဒေါ်လာ ၃,၀၀၀ နှင့် အမေရိကန်ဒေါ်လာ ၃,၀၀၀ အောက်တွင် သတလ(၁) ၁၃.၅၀ % ႏ ကုမ္ပဏီမှ ၈၆.၅ %

(ခ) LME ခဲစင်ဈေး တစ်တန်လျှင် အမေရိကန်ဒေါ်လာ ၃၀၀၁ မှ ၄၀၀၀ တွင် သတလ(၁) ၂၀.၀ % ႏ ကုမ္ပဏီမှ ၈၀.၀ %

(ဂ) LME ခဲစင်ဈေး တစ်တန်လျှင် အမေရိကန်ဒေါ်လာ ၄၀၀၁ နှင့် အထက်တွင် သတလ(၁) ၂၈.၀ % ႏ ကုမ္ပဏီမှ ၇၂.၀%

၆။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ US$ ၂၈.၆၉ သန်း ဖြစ်ပြီး ၎င်းတွင် Sichuan Henglu Industrial Co., Ltd. မှ US$ ၂၈.၁၂ သန်း၊ Good Plus Star Mining Co.,Ltd. မှ ကျပ်သန်း ၅၄၁.၅၀သန်း (အမေရိကန်ဒေါ်လာ ၀.၅၇ သန်း) ထည့်ဝင်မည်ဖြစ်ပါသည်။ ထည့်ဝင်မှုအမျိုးအစားများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| | နိုင်ငံခြား (US$/သန်း) | မြန်မာ (US$/သန်း) (ညီမျှသောမြန်မာကျပ်ငွေ) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၂.၇၄ | ၀.၅၇ | ၃.၃၁ |
| စက်ပစ္စည်းကိရိယာ | ၁၄.၉၈ | | ၁၄.၉၈ |
| အခြား | ၁၀.၄၀ | | ၁၀.၄၀ |
| **စုစုပေါင်း** | ၂၈.၁၂ | ၀.၅၇ | ၂၈.၆၉ |

၇။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်းဦးရေ (၆၂၈) ဦး ၊ နှင့် ပြည်ပမှ ကျွမ်းကျင်ပညာရှင် (၁၂) ဦး ၊ စုစုပေါင်း (၆၄၀) ဦး ခန့်ထားမည်ဖြစ် ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၈၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပြီး ဖြစ်ပါသည်။

၈။ အဆိုပြုကုမ္ပဏီ မှ ခဲသတ္တုများအား ၁၀၀ % နိုင်ငံခြားသို့ တင်ပို့ရောင်းချမည်ဖြစ်ပြီး နှစ်စဉ်ပုံမှန်ထုတ်လုပ်မှုလျာထားချက် နှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **အမျိုးအစား** | **ထုတ်လုပ်မှု (မက်ထရစ်တန်)** | **ရောင်းဈေး (US$ /တစ်တန်)** | **တန်ဖိုး (US$/သန်း)** |
|---|---|---|---|
| ခဲသတ္တု (၅၂% ) | ၃၀,၀၀၀ | ၆၀၀ | ၁၈.၀၀ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်(ဆဌမနှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | (US$/သန်း) |
|---|---|
| ဝင်ငွေခွန် | ၁.၄၅၆ |
| ပုံသေမြေငှားရမ်းခ | ၀.၀၀၆ |
| ဓာတ်သတ္တုခွန် (၄ %) | ၀.၇၂၀ |

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီ၏ (ဆဌမနှစ်မြောက်) ဝင်ငွေမှာ အမေရိကန်ဒေါ်လာ ၁၈.၀၀ သန်း၊ အသုံးစရိတ်မှာ အမေရိကန်ဒေါ်လာ ၁၃.၆၃ သန်း နှင့် ကုမ္ပဏီ၏ အသားတင်အမြတ်မှာ အမေရိကန်ဒေါ်လာ ၄.၃၇ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄) နှစ်နှင့် (၉) လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၇.၁၉ % ဖြစ်ပါသည်။ အမေရိကန်တစ်ဒေါ်လာလျှင် ၉၅၀ ကျပ်နှုန်းဖြင့် တွက်ချက်တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ** အဆိုပြုမြေနေရာသည် ကျေးရွာနှင့် အလှမ်းကွာဝေးပြီး ရွာမြေ၊ သာသနာ့မြေ၊ သုသာန်မြေ၊ စာသင်ကျောင်းမြေများနှင့် ကင်းလွတ်မှုရှိပြီး စိုက်ပျိုးလုပ်ကိုင်နိုင်ခြင်းမရှိသော ကျောက်ကုန်းမြေမျိုးဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် နောင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိကြောင်း၊ ဒေသတွင်း သတ္တုတူးဖော်ရေးလုပ်ငန်းများ တည်ထောင်ခြင်းဖြင့် ဒေသခံပြည်သူများ၏ အလုပ်အကိုင်အခွင့်အလမ်းများ တိုးတက်ရရှိစေနိုင်ခြင်း၊ ကုမ္ပဏီမှ ဒေသခံပြည်သူများအား နည်းပညာသင်တန်းများ ပို့ချပေးခြင်းနှင့် လုပ်ငန်းခွင်အတွင်း ထိခိုက်မှု ဖြစ်ပေါ်လာပါက ဆေးကုသမှုနှင့် အခြားထောက်ပံ့မှုများ ပြုလုပ်ပေးရန် ဝန်ခံကတိပြုထားသဖြင့် ဒေသခံပြည်သူများမှ အသိပညာ၊ အတတ်ပညာ ဗဟုသုတ ရရှိစေခြင်း၊ လုပ်ငန်းကျွမ်းကျင်မှု အရည်အသွေး တိုးတက် မြင့်မားလာစေခြင်း၊ တစ်ဦးချင်းဝင်ငွေ တိုးတက်သည်နှင့်အမျှ ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ရရှိစေနိုင်ကြောင်း၊ ဖော်ပြပါလုပ်ကွက်နေရာများသည် စိုက်ပျိုးနိုင်သည့် မြေများမဟုတ်သဖြင့် လက်ရှိဒေသခံတောင်သူများ၏ စီးပွားရေး ထိခိုက်မှု မရှိနိုင်ခြင်း၊ အဆိုပြုမြေနေရာများသည် သစ်တောဦးစီးဌာန၏ စိုက်ခင်းဧရိယာများနှင့် စီမံကိန်းဧရိယာများ လွတ်ကင်းမှုရှိပြီး အဖိုးတန်အပင်များ ပေါက်ရောက်မှုမရှိဘဲ အပင်ငယ်များသာ ပေါက်ရောက်လျက်ရှိခြင်း၊ သတ္တုတူးဖော်ရေးလုပ်ငန်း ဆောင်ရွက်ရာတွင်လည်း လှိုဏ်ခေါင်းတူး၍ သတ္တုကုန်ကြမ်းကိုသာ ထုတ်လုပ်မည် ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ကိုလည်း ထိခိုက်ပျက်စီးမှု နည်းပါးနိုင်ခြင်းတို့ကြောင့် ဒေသခံပြည်သူတို့အနေဖြင့် လက်ခံနိုင်ပါကြောင်း နှင့် ရှမ်းပြည်နယ် အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ- က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** သတ္တုတူးဖော်ထုတ်လုပ်သည့် လုပ်ငန်းစဉ်များကြောင့် မြေတိုက်စားခြင်း၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊ ရေထုညစ်ညမ်းမှုနှင့် ဆူညံသံများကြောင့် အသံညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါကြောင်း၊ အဆိုပြုဧရိယာတွင် ပါရှိသည့် လုပ်ကွက်(၁၀)ကွက်၊ ဧရိယာ (၄၉၅) ဧကသည် စိုက်ခင်းဧရိယာနှင့် သစ်စေ့ထုတ် ဧရိယာများနှင့် လွတ်ကင်းပြီး အဖိုးတန် အပင်ကြီးများ ပေါက်ရောက်မှု မရှိဘဲ အပင်ငယ်များသာ ပေါက်ရောက်ခြင်းနှင့် သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုစာပါ မြေပုံအညွှန်းအရ၊ ကြိုးဝိုင်းကြိုးပြင် ကာကွယ်တောအတွင်း ပါဝင်ခြင်း မရှိပါသဖြင့် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု အနည်းဆုံး နည်းစနစ်များဖြင့် ဆောင်ရွက်သင့်ကြောင်း၊ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင်နှင့် ဒေသခံ

ပြည်သူများ၏ ကျန်းမာရေး၊ လူမှုရေးနှင့် စီးပွားရေးတို့အပေါ် ထိခိုက်မှု ဆန်းစစ်လေ့လာခြင်း (EIA၊ SIA၊ HIA)လုပ်ငန်းစဉ်များ ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် ခေတ်မီနည်းပညာများဖြင့် ဆောင်ရွက်မည့် အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ အုပ်ချုပ်လုပ်ကိုင်မှု စီမံချက် (EMP) ရေးဆွဲဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် စီမံကိန်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ဒေသခံပြည်သူများအား သိရှိနားလည်စေရန် ဆွေးနွေးပြီး အကြံပြုတင်ပြချက်များ ရယူထည့်သွင်းဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိပြုထားပါသည်)** **နောက်ဆက်တွဲ- ခ**

(ဂ) **စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ** သတ္တုရှာဖွေတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းဖြစ်သည့်အတွက် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ဘေးအန္တရာယ် ကင်းရှင်းရေး အစီအမံများ စနစ်တကျ ဆောင်ရွက်ထားရှိရန် လိုအပ်ပါကြောင်း၊ နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီညွတ်မျှတမှု ရှိပါကြောင်း၊ တည်ဆဲဥပဒေများနှင့် ကိုက်ညီပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ- ဂ**

၁၂။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Sichuan Henglu Industry Co., Ltd. သည် Chengdu Xinguanglu Branch of Agricultural Bank of China တွင် (၆-၁-၂၀၁၄) ရက်စွဲဖြင့် RMB ၃၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၄.၉၅၈ သန်း) ရှိကြောင်း နှင့် Good Plus Star Mining Co.,Ltd. ၏မန်နေဂျင်းဒါရိုက်တာ ဒေါ်လီမျှင်းသည် တောင်ကြီးမြို့၊ ကမ္ဘောဇဘဏ်လီမိတက်တွင် (၁၅-၆-၂၀၁၂) ရက်စွဲဖြင့် ကျပ်ငွေ ၁၆၀ သန်းရှိကြောင်း ဘဏ်အထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ကွက် (၁၀) ကွက် ၊ စုစုပေါင်းဧရိယာ ၄၉၅ ဧက တွင် ခဲနှင့်ရောရာ သတ္တုများ စမ်းသပ်တိုင်းတာခွင့်အား Good Plus Star Mining Co., Ltd. သို့ ခွင့်ပြုခဲ့သည့် ဓာတ်သတ္တုစမ်းသပ်တိုင်းတာ ခွင့်ပြုမိန့် အမှတ် ၊ ၀၁၅၅/၂၀၁၂ ၊ သက်တမ်း (၁) နှစ် (၂၀-၇-၂၀၁၂ မှ ၁၉-၇-၂၀၁၃ အထိ)အား ပူးတွဲ တင်ပြထားပါသည်။

(ခ) အဆိုပါလုပ်ကွက်များအတွင်း ခဲနှင့်ရောရာသတ္တုရိုင်း အကြီးစား ထုတ်လုပ်ခွင့်ရရှိရေး အတွက် Good Plus Star Mining Co., Ltd. မှ စမ်းသပ်တိုင်း တာရေး အစီရင်ခံစာတင်ပြခဲ့မှုအပေါ် ဘူမိဗေဒလေ့လာရေးနှင့် ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာနမှ ကုမ္ပဏီအနေဖြင့် လုံလောက်သော အစမ်းလိုဏ်နှင့် အစမ်းမြောင်းများ တူးဖော်ထားခြင်း၊ နမူနာများ စနစ်တကျရယူဓာတ်ခွဲစမ်းသပ်ထားခြင်း၊ မြေပုံ၊ ဓာတ်ပုံနှင့် ဖြတ်ပိုင်းပုံများ ပြည့်စုံစွာ ဖော်ပြထားခြင်း၊ စမ်းသပ်တိုင်းတာခြင်းကို စနစ်တကျ ဆောင်ရွက်ထားပြီး တန်ချိန်တွက်ချက်ပုံ နည်းစနစ် မှန်ကန်ကြောင်း၊ ဤကဲ့သို့ အသေးစိတ် စမ်းသပ်တိုင်းတာခြင်းလုပ်ငန်းတွင် ကုမ္ပဏီမှ ကိုယ်တိုင်သီးသန့် ဆောင်ရွက်ခဲ့သည့်အတွက် အကြီးစား စမ်းသပ်တိုင်းတာတွက်ချက် တင်ပြလာသော သတ္တုရိုင်းတန်ချိန် ၉၁၀၈၂၄၃ တန် ( 6.7 % Pb-P.3) အား ကုမ္ပဏီမှ တာဝန်ယူမည်ဆိုပါက လက်ခံနိုင်ဖွယ်ရှိကြောင်း ဘူမိဗေဒလေ့လာရေးနှင့် ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန မှ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းသို့ ပြန်ကြားထားပါသည်။

(ဂ) အဆိုပြုကုမ္ပဏီ မှ အမေရိကန်ဒေါ်လာ ၁.၂၇၀ သန်း တန်ဖိုးရှိသော Dump Truck (၂၀)စီးအား ကျော်ကျော်သိန်းကုမ္ပဏီအနေဖြင့် လုပ်ငန်းလိုအပ်ချက်အရ အခွန်အခ ပေးဆောင်၍ တင်သွင်းဝယ်ယူခဲ့ပြီး ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ထပ်မံတင်သွင်းမည့် အမေရိကန်ဒေါ်လာ ၀.၆၃၅ သန်း တန်ဖိုးရှိသော Track (20 Tons) (2011/2012 Model) (၁၀) စီး အပါအဝင် ကျန်ရှိသောလုပ်ငန်းသုံးပစ္စည်းများအား အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုပါရန် တင်ပြထားပါသည်။

(ဃ) အဆိုပြုကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာန ၏ သဘောထားနှင့်အညီ ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှု ဆန်းစစ်ချက် အစီရင်ခံစာများနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ စီမံခန့်ခွဲထား ရှိမှု အစီအစဉ်အား Kaung Kyaw Say Engineering Co., Ltd. နှင့် ဆောင်ရွက်လျက်ရှိပါကြောင်း ၊ အဆိုပါ အစီရင်ခံစာများအား (၃-၁-၂၀၁၄) ရက်နေ့မှ စတင် ဆောင်ရွက်မည်ဖြစ်ပြီး အဆိုပါနေ့ရက်မှ (၂) လ အတွင်း ပြီးစီးအောင် ဆောင်ရွက်၍ ကော်မရှင်သို့ ပြန်လည်တင်ပြမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။

(င) GPS Joint Venture Co., Ltd. မှမိုင်းပိတ်သိမ်းမှုစီမံချက် (Mine Closure Plan) အတွက် နှစ်စဉ် အမေရိကန်ဒေါ်လာ (၁) သိန်း ထည့်ဝင်စုဆောင်းသွားမည်ဖြစ်ပြီး လူမှုရေး တာဝန်ယူမှု ရန်ပုံငွေ (CSR-Fund) အဖြစ် စီးပွားဖြစ် ထုတ်လုပ်မှု ကာလ

တစ်လျှောက်တွင် ကုမ္ပဏီ၏ နှစ်စဉ် အမြတ်ငွေမှ ၂ % ကို ထည့်ဝင်ထူထောင် သုံးစွဲသွားမည် ဖြစ်ပါသည်။ ထို့အပြင် ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းများ ဆောင်ရွက်ရာတွင်လည်း နိုင်ငံတကာ စံချိန်စံညွှန်းများနှင့်အညီ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအမံများ ချမှတ်ပြီး စနစ်တကျ အကောင်အထည်ဖော်ဆောင်ရွက်မည် ဖြစ်ပါကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ ထောက်ခံတင်ပြထားပါသည်။

၁၄။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ အမိန့်ကြော်ငြာစာအမှတ် ၁/၂၀၁၃ ဖြင့် ထုတ်ပြန်ထားသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားတွင် ဓာတ်သတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းသည် နိုင်ငံသားနှင့်ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားစာရင်းတွင် ပါဝင်သည့်အပြင် သီးခြားပြဋ္ဌာန်းထားသည့် အခြေအနေ တစ်ရပ်ရပ်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေး လုပ်ငန်းအမျိုးအစားများစာရင်း၌ သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားစာရင်းတွင်လည်းပါဝင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၁၆။ သို့ဖြစ်ပါ၍ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Sichuan Henglu Industrial Co., Ltd. မှ ၉၈ % နှင့် မြန်မာနိုင်ငံ Good Plus Star Mining Co., Ltd. မှ ၂ % အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် GPS Joint Venture Co., Ltd. တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဘော်ဆိုင်းကျေးရွာအုပ်စုရှိ မြေဧရိယာ(၄၉၅)ဧကတွင် အမှတ်(၁)သတ္တုတွင်းလုပ်ငန်းနှင့် ပူးပေါင်း၍ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသောစနစ်ဖြင့် ခဲသတ္တုသန့်စင်အကြီးစားထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် သတ္တုတွင်းဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုတင်ပြလာခြင်းအပေါ် တင်ပြလမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁ | GPS Joint Venture Co., Ltd. | Sichuan Henglu Industrial Co., Ltd. (Represented By) (၁) Mr. Luo Rong Director Chinese P. P No. G 52623489 | A-18/ C, Guihu Quarter, Sichuan Province, Chengdu City, China. |
| | | Good Plus Star Mining Co., Ltd. (Represented By) (၂) Daw Lee Hunyinn Director Myanmar/Kokent 13/ Ka La Ta (Naing) 004011 | No. 347, Aye Mya Tharyar St, Region No. 19, Ward No. 7, Lashio Township, Northern Shan State, Myanmar |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၉၁၀၇၄၉၉၊၀၉-၄၇၀၉၅၉၁၉၊ ၀၉-၄၉၅၉၅၀၁၇

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - Bawsai, Kalaw Township, Southern Shan State, Myanmar

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - Mr. Luo Rong Director

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ခဲသတ္တုသန့်စင်အကြိုးစား ထုတ်လုပ်မှုလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - အမှတ်- ၃၁၄ အက်ဖ်စီ/ ၂၀၁၂-၂၀၁၃ / (၉-၁-၂၀၁၃) (ယာယီ)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၈-၁-၂၀၁၄

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -